အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Oracle KZY Co., Ltd. (အော်ရကယ်ကေဇက်ဝိုင်ကုမ္ပဏီလီမိတက်) မှ အသားခြောက်ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြ ခြင်းကိစ္စ။**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br><br><br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - **Oracle KZY Co.,Ltd.**<br>**(အော်ရကယ်ကေဇက်ဝိုင်ကုမ္ပဏီလီမိတက်)**<br><br>- ဒေါက်တာကျော်ဇေယျ<br>ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- **အသားခြောက်ထုတ်လုပ်ခြင်းလုပ်ငန်း** |
| ၂။ | တည်နေရာ | - အမှတ်(ဂျေ-၉/၂ ၊ ဂျေ-၉/၇) ၊ စက်မှုဇုန်(၂)လမ်း၊ မိတ္ထီလာ စက်မှုဇုန်၊ မိတ္ထီလာ မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက် | - ဦးသန်းနိုင်<br>- ဝ.၄၅၈ဧက ( ၁၈၅၃.၄၆၁၈၈စတုရန်းမီတာ)<br>(၁၄၀'x ၅၀') စက်ရုံအဆောက်အဦ-၁လုံး<br>(၄၀'x၄၄') ရုံးခန်းအဆောက်အဦ-၁လုံး<br>(၁၅'x၈၀') ဝန်ထမ်းအိမ်ယာအဆောက်အဦ-၁လုံး<br>(၂၀'x၃၀') စားဖိုဆောင်အဆောက်အဦ-၁လုံး |
| ၄။ | တည်ဆောက်မှုကာလ | - ၆ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ<br>ငွေသား<br>စက်ပစ္စည်း(ဝယ်ယူပြီး)<br>မော်တော်ယာဉ်(ပြည်တွင်းဝယ်)<br>အဆောက်အဦဆောက်လုပ်မှုကုန်ကျစရိတ်<br>ရုံးအသုံးအဆောင်နှင့်ပရိဘောဂ(ပြည်တွင်းဝယ်)<br>ကနဦးကုန်ကြမ်း(ပြည်ပဝယ်) | ကျပ် ၃၈၃.၉၆သန်း<br>ကျပ် ၁၀၀.၀၀သန်း<br>ကျပ် ၃၁.၈၀သန်း<br>ကျပ် ၁၅.၀၀သန်း<br>ကျပ် ၁၂၄.၈၀သန်း<br>ကျပ် ၃.၃၅သန်း<br>ကျပ် ၁၀၉.၀၁သန်း (USD-72150 နှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| ၆။ | ဆောင်ရွက်မည့်နည်းစနစ် | - ပြည်ပသို့ ၁၀၀ရာခိုင်နှုန်း တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ |
| ၇။ | ထုတ်လုပ်မှုအစီအစဉ်(ပထမနှစ်) | |

| စဉ် | ထုတ်လုပ်မှု | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း USD/KG |
|---|---|---|---|---|
| ၁ | အသားခြောက် | Kg | 102600 | 6.2 |

| | | |
|---|---|---|
| ၈။ | ဝန်ထမ်းခန့်ထားမှု | <table><tr><td></td><td>ပြည်တွင်း</td><td>ပြည်ပ</td></tr><tr><td>ဦးရေ</td><td>၅၂ ဦး</td><td>၃ ဦး</td></tr><tr><td>အမြင့်ဆုံးလစာ</td><td>ကျပ် ၅၀၀,၀၀၀/-</td><td rowspan="2">ကျပ် ၁,၅၃၀,၀၀၀/-</td></tr><tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ် ၁၅၀,၀၀၀/-</td></tr></table> |
| ၉။ | CSR အစီအစဉ် | - နှစ်စဉ်လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% ကို ပညာရေးကဏ္ဍတွင် ၃၀%၊ ကျန်းမာရေးကဏ္ဍ တွင် ၃၀%၊ လူမှုရေးကဏ္ဍတွင်၂၀%နှင့် လမ်းတံတားဖွံ့ဖြိုး တိုးတက် ရေးလုပ်ငန်း များတွင် ၂၀% သုံးစွဲ မည်ဖြစ်ပါသည်။ |
| ၁၀။ | မီးဘေးကြိုတင်ကာကွယ်မှု စီမံချက် | - စက်ရုံအဆောက်အအုံ အတွင်း/အပြင်တွင် မီးသတ်ဆေးဗူးများထားရှိခြင်း၊ လောင်စာဆီ စနစ်တကျထားရှိခြင်း၊ ဆေးလိပ်သောက်ခြင်းအား တင်းကြပ်စွာတားမြစ်ခြင်း၊ မီးသတ်ရေလှောင်ကန်ထားရှိခြင်း၊ စက်ရုံဝန်ထမ်းများအား အခါအားလျော်စွာ မီးသတ်သင်တန်းများတက်ရောက်စေခြင်း၊ မီးဘေး အန္တရာယ် ကြိုတင်ကာကွယ်ရေး အတွက် ဇာတ်တိုက်လေ့ကျင့်ခြင်း၊ အသိပညာပေးဆွေးနွေးပွဲများပြုလုပ်ခြင်း၊ အမှိုက်သရိုက်/လောင်စာများကို စနစ်တကျရှင်းလင်းခြင်း၊ မီးဘေးအန္တရာယ်ကာကွယ် ရေးအတွက် လုံခြုံရေးဝန်ထမ်းများထားရှိခြင်း၊ လျှပ်စစ်မီးများကို စနစ်တကျကာကွယ်အသုံးပြုစေခြင်းများ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအစီအစဉ် | - သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအတွက် သက်ဆိုင်ရာဌာနများနှင့် စနစ်တကျဆောင်ရွက်သွား မည်ဖြစ်ပါသည်။ စက်ရုံမှ ထွက်ရှိသည့် အမှိုက်များကို ယင်လုံအမှိုက်ပုံးများဖြင့် စုဆောင်း၍ ပလက်စတစ်အိတ် နှင့် အလုံပိတ်ကာ စည်ပင်သာယာရေး အဖွဲ့နှင့် ချိတ်ဆက်၍ စနစ်တစ်ကျစွန့်ပစ်သွားပါမည်။ စက်ရုံပတ်ပတ်လည်တွင် အရိပ်ရအပင်များ၊ နေကာပင်များ စိုက်ပျိုးသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | လုပ်ငန်းခွင် သာယာရေး နှင့် | - ဝန်ထမ်းများ၏ လုပ်ခလစာအပြင် ရက်မှန်ကြေး/ အချိန်မှန်ကြေးများပေးခြင်း၊ ရိုးရာနှစ်ကူးကာလများတွင်ဝန်ထမ်း |

| | | |
|---|---|---|
| | သက်သာချောင်ချိရေး အစီအစဉ် | များအတွက်ပျော်ပွဲ/ရွှင်ပွဲများ ပြုလုပ်ပေးခြင်း၊ ဝန်ထမ်းများ လုပ်ရည်ကိုင်ရည်အလိုက် ဆုကြေးငွေများ ချီးမြှင့်ပေးခြင်း၊ ဝန်ထမ်းများ၏ စားသောက်ရေးအတွက် ကျန်းမာရေးနှင့် ညီညွတ်သော အစားအစာများ ကျွေးမွေးရန်စီစဉ် ဆောင်ရွက်ခြင်း၊ဘာသာရေးအလိုက် အခါကြီးရက်ကြီး များတွင် အလှူအတန်းနှင့်ပျော်ပွဲရွှင်ပွဲများကျင်းပပေးခြင်း၊ ပိတ်ရက်ရှည် ကာလများတွင် အပန်းဖြေခရီးများ ပို့ဆောင် ပေးခြင်း၊ ဝန်ထမ်းများအား ကျန်းမာရေးစစ်ဆေးပေးခြင်း၊ အခြေခံဆေးသေတ္တာ များထားရှိခြင်း၊ လိုအပ်ပါက ဆေးရုံဆေးခန်းသို့ ပို့ဆောင်ကုသခြင်း၊ လူမှုဖူလုံရေး အသင်းဝင်အဖြစ် လုပ်ဆောင်ပေးခြင်း၊ ပြည်တွင်း ဝန်ထမ်းများ၏ လုပ်ခလစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသောတည်ဆဲဥပဒေ၊ နည်းဥပဒေ၊ အမိန့်စာ၊ ညွှန်ကြားချက်များနှင့် လုပ်ထုံးလုပ်နည်းများအား လိုက်နာ၍ ဥပဒေပါအခွင့်အရေးများ အလုပ်သမားများ အပြည့်အဝခံစားခွင့်ပေးသွားမည် ဖြစ်ကြောင်းနှင့် အလုပ်ရှင်အချင်းချင်း၊ ဝန်ထမ်းအချင်းချင်း၊ အလုပ်ရှင်နှင့် ဝန်ထမ်းများအကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများ အား သက်ဆိုင်ရာ တည်ဆဲ ဥပဒေများ နှင့်အညီ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။ |
| ၁၃။ | ရေဆိုးစွန့်ပစ်မှုအစီအစဉ် | - စက်ရုံ၏ အဓိကဘေးထွက် အဖြစ် ထွက်ရှိသည့် အသားပြုတ်ရည်များ သိုလှောင်ရန် ပေ(၂၀)ပတ်လည် အမြင့် (၁၅)ပေရှိသည့် Service Tank ဆောက်လုပ်ပြီးဖြစ်ပါသည်။ ယင်း Service Tank တွင် သိုလှောင်ထားသော ရေဆိုးများအား စည်ပင်သာယာရေး ကော်မတီဖြင့် ချိတ်ဆက် ကာ စနစ်တကျ ဆောင်ရွက် သွားပါမည်။ |
| ၁၄။ | လုပ်ငန်းသဘာဝ ရှင်းလင်းချက် | - အေးခဲသားတင်သွင်းခြင်း(Import) နှင့် အသားခြောက်တင်ပို့ခြင်း (Export) လုပ်ငန်းများကို သက်ဆိုင်ရာ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ သဘောထားမှတ်ချက်၊ ကုန်သွယ်ရေး ဦးစီးဌာန၏ သွင်းကုန်၊ ပို့ကုန် လိုင်စင်များကို လျှောက်ထား၍ စနစ်တကျ ဆောင်ရွက် |

| | | |
|---|---|---|
| | | ခြင်း၊ အိန္ဒိယနိုင်ငံမှ အေးခဲကျွဲသား (Forzen Boneless Buffalo Meet) တင်သွင်း၍ ယင်းအေးခဲသား အား ပြုတ်ခြင်း၊ သကြားထည့်၍ပေါင်းခြင်း၊ အခြောက်ခံခြင်း စသည့် လုပ်ငန်းစဉ်အဆင့်ဆင့် ဖြင့် အသင့် စားသုံးနိုင်သော အသားခြောက်ကို ထုတ်လုပ်သွား မည်ဖြစ်ပါသည်။ အသားခြောက် (1)Kg ထွက်ရှိရန် အေးခဲအသား (2.2)Kg အသုံးပြုရပါသည်။ |
| ၁၅။ | အခြားတင်ပြချက်များ | - မြေပိုင်ဆိုင်မှုအထောက်အထားများတင်ပြထားပါ သည်။<br>- ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကတ် လက်မှတ် မိတ္တူကို တင်ပြထား ပါသည်။ |
| ၁၆။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့် တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် (၃) တွင် ပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက်ထား နိုင်ကြောင်း စိစစ်တွေ့ရှိရပါ သည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ၂၂ / ၄၄ / ၀၃ (မ-၂၈) ( ၄၀၃ /၂၀၁၉)

ရက်စွဲ ၊၂၀၁၉ ခုနှစ်၊ မေလ ၂၃ ရက်။

**မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Oracle KZY Co., Ltd. (အော်ရကယ်ကေဇက်ဝိုင် ကုမ္ပဏီလီမိတက်)မှ အသားခြောက် ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါ ရန် အတည်ပြု လျှောက်ထားလွှာ တင်ပြ ခြင်းကိစ္စ။

၁။ Oracle KZY Co., Ltd. (အော်ရကယ်ကေဇက်ဝိုင် ကုမ္ပဏီလီမိတက်) မှ အမှတ်(၇၅- ၉/၂ ၊ ၇၅-၉/၇) ၊ စက်မှုဇုန်(၂)လမ်း၊ မိတ္ထီလာစက်မှုဇုန်၊ မိတ္ထီလာမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး ရှိ ၀.၄၅၈ဧကေ (၁၈၅၃.၄၆၁၈၈၈တုရန်းမီတာ) တွင် အသားခြောက် ထုတ်လုပ်ခြင်းလုပ်ငန်းအား ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးသန်းနိုင် ၏ မြေပိုင်ဆိုင်မှု အထောက် အထားများ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်နှင့် အချက်အလက်များ၊ ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသား စိစစ်ရေးကတ် မိတ္တူများ ပူးတွဲတင်ပြ ထားပါသည်။

၃။ တည်ဆောက်ရေးကာလမှာ ၆ လ ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၃၈၃.၉၆ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အသေးစိတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| ငွေသား | - | ကျပ် ၁၀၀.၀၀သန်း |
| စက်ပစ္စည်း(ဝယ်ယူပြီး) | - | ကျပ် ၃၁.၈၀သန်း |
| မော်တော်ယာဉ်(ပြည်တွင်းဝယ်) | - | ကျပ် ၁၅.၀၀ သန်း |
| အဆောက်အဦဆောက်လုပ်မှုကုန်ကျစရိတ် | - | ကျပ် ၁၂၄.၈၀ သန်း |
| ရုံးအသုံးအဆောင်နှင့် ပရိဘောဂ(ပြည်တွင်းဝယ်) | - | ကျပ် ၃.၃၅သန်း |
| **ကနဦး ကုန်ကြမ်း(ပြည်ပဝယ်)** | - | ကျပ်၁၀၉.၀၁သန်း(USD၇၂၁၅၀နှင့်ညီမျှသောမြန်မာကျပ်) |
| **စုစုပေါင်း** | - | ကျပ် ၃၈၃.၉၆ သန်း |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၅၂) ဦးနှင့် ပြည်ပ (၃) ဦး ခန့်ထားဆောင်ရွက်မည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ လစာမှာ အနိမ့်ဆုံး ကျပ် ၁၅၀,၀၀၀/- နှင့် အမြင့်ဆုံး ကျပ် ၅၀၀,၀၀၀/- ဖြစ်ပြီး ပြည်ပပညာရှင် တစ်ဦး၏ လစာမှာ ကျပ် ၁,၅၃၀,၀၀၀/- ဖြစ်ပါသည်။

၆။ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများ(ပထမနှစ်) မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ထုတ်လုပ်မှု | ရေတွက် ပုံ | အရေအတွက် | ဈေးနှုန်း USD/KG |
|---|---|---|---|---|
| ၁ | အသားခြောက် | Kg | 102600 | 6.2 |

၇။ **စိစစ်တင်ပြချက်**

(က) အဆိုပြုမြေပေါ်တွင် (၁၄၀'x၅၀') စက်ရုံအဆောက်အဦ (၁)လုံး၊ (၄၀'x၄၄') ရုံးခန်းအဆောက်အဦ(၁)လုံး၊(၁၅'x၈၀') ဝန်ထမ်းအိမ်ယာအဆောက်အဦ(၁)လုံး နှင့် (၂၀'x၃၀') စားဖိုဆောင် အဆောက်အဦ (၁) လုံး စုစုပေါင်း အဆောက်အဦ (၄)လုံး ဆောက်လုပ်မည်ဖြစ်ပါသည်။

(ခ) **CSR** အနေဖြင့် နှစ်စဉ်လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% ကို ပညာရေး ကဏ္ဍတွင် ၃၀%၊ ကျန်းမာရေးကဏ္ဍ တွင် ၃၀%၊ လူမှုရေး ကဏ္ဍတွင်၂၀%နှင့် လမ်းတံတားဖွံ့ဖြိုး တိုးတက်ရေးလုပ်ငန်း များတွင် ၂၀% သုံးစွဲ မည်ဖြစ်ပါသည်။

(ဂ) **မီးဘေးကြိုတင် ကာကွယ်မှု** အနေဖြင့် စက်ရုံအဆောက်အအုံ အတွင်း/အပြင် တွင် မီးသတ်ဆေးဗူး များထားရှိခြင်း၊ လောင်စာဆီ စနစ်တကျထားရှိခြင်း၊ ဆေးလိပ်သောက်ခြင်းအား တင်းကြပ်စွာတားမြစ်ခြင်း၊ မီးသတ်ရေလှောင်ကန် ထားရှိခြင်း၊ စက်ရုံဝန်ထမ်းများအား အခါအားလျော်စွာ မီးသတ်သင်တန်းများ တက်ရောက်စေခြင်း၊ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အတွက် ဇာတ်တိုက်လေ့ကျင့်ခြင်း၊ အသိပညာပေးဆွေးနွေးပွဲများ ပြုလုပ်ခြင်း၊ အမှိုက် သရိုက်/လောင်စာများကို စနစ်တကျ ရှင်းလင်းခြင်း၊ မီးဘေးအန္တရာယ်ကာကွယ် ရေးအတွက် လုံခြုံရေးဝန်ထမ်းများထားရှိခြင်း၊ လျှပ်စစ်မီးများကို စနစ်တကျ ကာကွယ်အသုံးပြုစေခြင်းများ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) **ပတ်ဝန်းကျင် ညစ်ညမ်းမှု** မရှိစေရေးအတွက် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု အတွက် သက်ဆိုင်ရာ ဌာနများနှင့် စနစ်တကျဆောင်ရွက်သွား မည်ဖြစ်ပါသည်။ စက်ရုံမှ ထွက်ရှိသည့် အမှိုက်များကို ယင်လုံအမှိုက်ပုံးများဖြင့် စုဆောင်း၍ ပလက်စတစ်အိတ် နှင့် အလုံပိတ်ကာ စည်ပင်သာယာရေး အဖွဲ့နှင့် ချိတ်ဆက်၍ စနစ်တစ်ကျ စွန့်ပစ်သွားပါမည်။ စက်ရုံပတ်ပတ်လည်တွင် အရိပ်ရအပင်များ၊ နေကာပင်များ စိုက်ပျိုးသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) **လုပ်ငန်းခွင်သက်သာချောင်ချိရေးအနေဖြင့်** ဝန်ထမ်းများ၏ လုပ်ခလစာအပြင် ရက်မှန်ကြေး/အချိန်မှန်ကြေးများပေးခြင်း၊ ရိုးရာနှစ်ကူးကာလများတွင် ဝန်ထမ်း များအတွက် ပျော်ပွဲ/ရွှင်ပွဲများ ပြုလုပ်ပေးခြင်း၊ ဝန်ထမ်းများ လုပ်ရည်ကိုင်ရည် အလိုက် ဆုကြေးငွေများ ချီးမြှင့်ပေးခြင်း၊ ဝန်ထမ်းများ၏ စားသောက်ရေး အတွက် ကျန်းမာရေးနှင့် ညီညွတ်သော အစားအစာများ ကျွေးမွေးရန်စီစဉ်

ဆောင်ရွက်ခြင်း၊ ဘာသာရေးအလိုက် အခါကြီးရက်ကြီးများတွင် အလှူအတန်းနှင့်ပျော်ပွဲရွှင်ပွဲများကျင်းပပေးခြင်း၊ ပိတ်ရက်ရှည် ကာလများတွင် အပန်းဖြေခရီးများပို့ဆောင်ပေးခြင်း၊ ဝန်ထမ်းများအား ကျန်းမာရေးစစ်ဆေးပေးခြင်း၊ အခြေခံဆေးသေတ္တာများ ထားရှိခြင်း၊ လိုအပ်ပါက ဆေးရုံဆေးခန်း သို့ ပို့ဆောင်ကုသခြင်း၊ လူမှုဖူလုံရေး အသင်းဝင်အဖြစ် လုပ်ဆောင်ပေးခြင်း၊ ပြည်တွင်း ဝန်ထမ်းများ၏ လုပ်ခလစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသောတည်ဆဲဥပဒေ၊ နည်းဥပဒေ၊ အမိန့်စာ၊ ညွှန်ကြားချက်များနှင့် လုပ်ထုံးလုပ်နည်းများအား လိုက်နာ၍ ဥပဒေပါ အခွင့်အရေးများ အလုပ်သမားများ အပြည့်အဝခံစားခွင့် ပေးသွားမည် ဖြစ်ကြောင်းနှင့် အလုပ်ရှင်အချင်းချင်း၊ ဝန်ထမ်းအချင်းချင်း၊ အလုပ်ရှင်နှင့် ဝန်ထမ်းများအကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများ အား သက်ဆိုင်ရာ တည်ဆဲ ဥပဒေများ နှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) ရေဆိုးစွန့်ပစ်မှု အစီအစဉ် အနေဖြင့် စက်ရုံ၏ အဓိကဘေးထွက် အဖြစ်ထွက်ရှိသည့် အသားပြုတ်ရည်များ သိုလှောင်ရန် ပေ(၂၀)ပတ်လည် အမြင့်(၁၅)ပေရှိသည့် Service Tank ဆောက်လုပ်ပြီးဖြစ် ပါသည်။ ယင်း Service Tank တွင် သိုလှောင်ထားသော ရေဆိုးများအား စည်ပင်သာယာရေး ကော်မတီဖြင့် ချိတ်ဆက်ကာ စနစ်တကျ ဆောင်ရွက် သွားပါမည်။

(ဆ) လုပ်ငန်းသဘာဝ ရှင်းလင်းချက် အနေဖြင့် အေးခဲသားတင်သွင်းခြင်း(Import) နှင့် အသားခြောက်တင်ပို့ခြင်း(Export) လုပ်ငန်းများကို သက်ဆိုင်ရာ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ သဘောထား မှတ်ချက်၊ ကုန်သွယ်ရေး ဦးစီးဌာန၏ သွင်းကုန်၊ ပို့ကုန် လိုင်စင်များကို လျှောက်ထား၍ စနစ်တကျ ဆောင်ရွက်ခြင်း၊ အိန္ဒိယနိုင်ငံမှ အေးခဲကျွဲသား (Forzen Boneless Buffalo Meet) တင်သွင်း၍ ယင်းအေးခဲသား အား ပြုတ်ခြင်း၊ သကြားထည့်၍ပေါင်းခြင်း၊ အခြောက်ခံခြင်း စသည့် လုပ်ငန်းစဉ်အဆင့်ဆင့် ဖြင့် အသင့်စားသုံးနိုင်သော အသားခြောက်ကို ထုတ်လုပ်သွား မည်ဖြစ်ပါသည်။ အသားခြောက်(1)Kg ထွက်ရှိရန် အေးခဲအသား (2.2)Kg အသုံးပြုရပါသည်။

(ဇ) လုပ်ငန်းအတွက်အသုံးပြုမည့် ကုန်ကြမ်းကို ပြည်ပမှဝယ်ယူ အသုံးပြုမည် ဖြစ်ပြီး ရာခိုင်နှုန်းပြည့် ပြည်ပသို့ ပြန်လည် တင်ပို့မည် ဖြစ်ပါသည်။

(ဈ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသောဒေသ ဇုန် (၃) တွင် ပါဝင်သဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက်ထားနိုင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ ရခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Oracle KZY Co., Ltd. (အော်ရကယ် ကေဇက်ဝိုင် ကုမ္ပဏီလီမိတက်) မှ အသားခြောက် ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နွယ်နီဦး၊အတွင်းရေးမှူး)